ပုံစံ (မနသ-၂)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊မနသ- ၁၁၄၈/၂၀၁၆ ။ ၂၀၁၆ ခုနှစ်၊ မတ်လ ၂၄ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ (ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးသာဋ္ဌေး

(ခ) **အဘ အမည်** ဦးထွန်းရင်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၂/အစန(နိုင်) ၀၃၀၁၈၂

(ဃ) **နေရပ်လိပ်စာ** အမှတ်(၁၈/စီ)၊ အင်းယားမြိုင်လမ်း၊ ရွှေတောင်ကြား(၁)ရပ်ကွက်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** Original Group Company Limited [အော်ရီဂျင်နယ်ဂရု(ပ်)ကုမ္ပဏီလီမိတက်]

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** Precast Concrete Product ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံဆိပ်ကမ်းမြို့နယ်၊ ၉၃ ရပ်ကွက်၊ မြေတိုင်းရပ်ကွက် အမှတ်-၇၅၊ မြေကွက်အမှတ်-၈၊ ၉ ရှိ မြေဧရိယာ ၁၁.၈၈၅ ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ်သန်း ၇၈၆၆.၀၀ (US$ ၃.၂၇ သန်း အပါအဝင် ကျပ် ခုနှစ်ထောင့်ရှစ်ရာခြောက်ဆယ့်ခြောက်သန်း တိတိ)

(ဈ) **တည်ဆောက်မှုကာလ** ၁၂ လ

၂၄/၃

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

အမိန့်ကြော်ငြာစာအမှတ်၊ ၃၉ /၂၀၁၆(မနသ)

၂၀၁၆ ခုနှစ် မတ်လ ၂၄ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော Original Group Company Limited [အော်ရီဂျင်နယ်ဂရု(ပ်) ကုမ္ပဏီလီမိတက်] သည် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံဆိပ်ကမ်းမြို့နယ်၊ ၉၃ ရပ်ကွက်၊ မြေတိုင်းရပ်ကွက်အမှတ်-၇၅၊ မြေကွက်အမှတ်-၈၊ ၉ ရှိ မြေဧရိယာ ၁၁.၈၈၅ ဧက (၄၈၀၉၆.၉၃ စတုရန်းမီတာ) အကျယ်အဝန်းရှိသော မြေပေါ်တွင် Precast Concrete Product ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၁၁-၃-၂၀၁၆) နေ့တွင်ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၉/၂၀၁၆)ကြိမ်မြောက် အစည်းအဝေး၌ တင်ပြခဲ့ရာခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂(ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Original Group Company Limited [အော်ရီဂျင်နယ်ဂရု(ပ်)ကုမ္ပဏီလီမိတက်]အား Precast Concrete Product ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ- ၁၁၄၈/ ၂၀၁၆ ကို ထုတ်ပေးလိုက်သည်။

၂။ Original Group Company Limited [အော်ရီဂျင်နယ်ဂရု(ပ်) ကုမ္ပဏီလီမိတက်] အနေဖြင့် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာ ခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ) အရ လုပ်ငန်းမှ ရရှိသောအမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၁(ဃ) အရ လုပ်ငန်းက ထုတ်လုပ်သည့်ပစ္စည်းကို ပြည်ပသို့ တင်ပို့ရောင်းချလျှင် ထိုသို့တင်ပို့ရောင်းချ၍ရရှိသော အမြတ်ငွေပေါ်တွင် ၅၀ ရာခိုင်နှုန်းအထိ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၅)နှစ်

ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ်အကောင်အထည်ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်းစတင်တည်ဆောက်မှုကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း ကိရိယာ၊ အဆောက်အဦ သို့မဟုတ် လုပ်ငန်းသုံးအခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်း တန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဆ) ဥပဒေပုဒ်မ ၂၀(ဈ)အရ လုပ်ငန်းတည်ဆောက်မှု ပြီးစီး၍ ပထမသုံးနှစ်အတွက် ကုန်ထုတ်လုပ်ရန် တင်သွင်းသည့် ကုန်ကြမ်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြား ပြည်တွင်း အခွန်အကောက်များ ဖြစ်စေ၊ နှစ်မျိုးလုံးကိုဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဇ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဈ) ဥပဒေပုဒ်မ ၂၁(မ္ဘ)အရ ပြည်ပသို့တင်ပို့ရန် ထုတ်လုပ်သည့် ပစ္စည်းများအပေါ် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှ တင်သွင်းသည့် ယာဥ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့်ပစ္စည်း အမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Original Group Company Limited [အော်ရီဂျင်နယ်ဂရု(ပ်)ကုမ္ပဏီလီမိတက်]သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှုရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ Original Group Company Limited [အော်ရီဂျင်နယ်ဂရု(ပ်)ကုမ္ပဏီလီမိတက်]သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။

၇။ Original Group Company Limited [အော်ရီဂျင်နယ်ဂရု(ပ်)ကုမ္ပဏီလီမိတက်]သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေး တို့အတွက် (Environmental Impact Assessment - EIA) ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက်ပြီးစီးမှု အခြေအနေကို ကော်မရှင်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနတို့သို့ ပေးပို့အစီရင်ခံ ရမည်။

၈။ Original Group Company Limited [အော်ရီဂျင်နယ်ဂရု(ပ်)ကုမ္ပဏီလီမိတက်]သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။တို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံးပစ္စည်းများကို အသုံးပြုတတ်စေရန် သင်တန်း များပေးရမည်။

၉။ ထို့ပြင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၀။ Original Group Company Limited [အော်ရီဂျင်နယ်ဂရု(ပ်)ကုမ္ပဏီလီမိတက်]သည် ပုဂ္ဂလိက စက်မှု လုပ်ငန်းဥပဒေအရ ရန်ကုန်တိုင်းဒေသကြီး စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိကစက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိ ဆောင်ရွက်ရမည်။

၁၁။ Original Group Company Limited [အော်ရီဂျင်နယ်ဂရု(ပ်)ကုမ္ပဏီလီမိတက်]သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင် နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမားဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျ ရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း စီစဥ်ဆောင်ရွက်ရမည်။

၁၂။ Original Group Company Limited [အော်ရီဂျင်နယ်ဂရု(ပ်)ကုမ္ပဏီလီမိတက်]သည် ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထား သော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြု လုပ်ငန်း၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာ နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၄။ Original Group Company Limited [အော်ရီဂျင်နယ်ဂရု(ပ်)ကုမ္ပဏီလီမိတက်]သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ ဥပဒေများ၊ နည်းဥပဒေများ၊ စည်းကမ်း သတ်မှတ်ချက်များ နှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

၁၅။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင် တို့ကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(င)အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၆။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်းမပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

(ဇေယျာအောင်)
ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၃ / မ-၁၁၉၇ / ၂၀၁၆ (၄၆၂-၈ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၂၄ ရက်

**ဖြန့်ဝေခြင်း**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

ပြည်ထဲရေးဝန်ကြီးဌာန

ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန

ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ဘဏ္ဍာရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန

မြန်မာနိုင်ငံတော် ဗဟိုဘဏ်

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ အမှတ်(၂) အကြီးစားစက်မှုလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားမှုဦးစီးဌာန

ဥက္ကဋ္ဌ၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

အုပ်ချုပ်မှုဒါရိုက်တာ၊ Original Group Company Limited [အော်ရီဂျင်နယ်ဂရု(ပ်)ကုမ္ပဏီ လီမိတက်]

PROPOSAL OF THE PROMOTER

TO MAKE

CITIZEN INVESTMENT

IN

THE REPUBLIC OF THE UNION OF MYANMAR

# PRECAST CONCRETE PLANT

SUBMITTED BY

## ORIGINAL GROUP CO., LTD.

# ORIGINAL GROUP CO., LTD.

No.110, KABAAYE PAGODA ROAD, BAHAN TOWNSHIP, YANGON, MYANMAR.
Tel : 951-552955 Fax : 951-540644


သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်။ ။ OGC / Precast / 2016 ( 012 )
ရက်စွဲ။ ။ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ (၁၅) ရက်

အကြောင်းအရာ။ ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ Precast Concrete Product ထုတ်လုပ်မှုစက်ရုံ လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်း။**

ရည်ညွှန်းချက်။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ်၊ ဇွန်လ ၁၂ ရက်နေ့စွဲပါစာအမှတ်၊ ရက-၃/မ-၁၁၉၇/၂၀၁၅(၇၅၁)

၁။ အထက်အကြောင်းရာပါကိစ္စနှင့်စပ်လျဉ်း၍ Original Group Co., Ltd. သည် Precast Concrete Product ထုတ်လုပ်မှုစက်ရုံ လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန်တင်ပြထားခြင်းကို လိုအပ်သည့်ပြင်ဆင်ချက်များပြုလုပ်ရန် ရည်ညွှန်းပါစာဖြင့် ပေးပို့လာပါသည်။

၂။ ယခုအခါတွင် လိုအပ်သည့်ပြင်ဆင်ချက်များကိုပြန်လည်ဆောင်ရွက်ခဲ့ပြီးဖြစ်ပါသဖြင့် Precast Concrete Product ထုတ်လုပ်မှုစက်ရုံ လုပ်ငန်းအတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ စိစစ်ပေးနိုင်ပါရန် ရင်းနှီးမြှုပ်နှံမှုအဆိုပြုလွှာကို ပေးပို့တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

၁၅/၂/၂၀၁၆

သာဌေး
ဥက္ကဋ္ဌ
Original Group Co., Ltd

မိတ္တူကို-
- ရုံးလက်ခံ

ORIGINAL GROUP CO., LTD.
No.110, KABAAYE PAGODA ROAD, BAHAN TOWNSHIP, YANGON, MYANMAR.
Tel : 951-552955 Fax : 951-540644

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်။ ။ OGC / Precast / 2016 (14)
ရက်စွဲ။ ။ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ (၁၅) ရက်

အကြောင်းအရာ။ ။ **Precast Concrete Plant တည်ဆောက်မည့် မြေဧရိယာ အမှန်တင်ပြခြင်း။**

ရည်ညွှန်းချက်။ ။ ရန်ကုန်တိုင်းဒေသကြီး၊ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၂၀၁၅ ခုနှစ် အောက်တိုဘာလ (၂၂) ရက်စွဲပါစာအမှတ်၊၁/၂-၂(၁)/စီမံ။

၁။ အထက်အကြောင်းရာပါကိစ္စနှင့် စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့မှ Original Group Co., Ltd. သို့ရောင်းချရန်အတွက် အတည်ပြုပြီးဖြစ်သော ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(ဆိပ်ကမ်း) မြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်(၇၅)ရှိ မြေဧရိယာမှာ (၁၂) ဧကဖြစ်သော်လည်း အမှန်တကယ် မြေတိုင်းမြေပုံ၌ မြေဧရိယာမှာ (၁၁.၈၈၅) ဧကသာရှိသဖြင့် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့သို့ ငွေပေးသွင်းရာ၌ နောက်ဆုံးအရစ်ပေးသွင်းရာတွင် ညှိနှိုင်းပေးချေသွားရန်သဘောတူပြီးဖြစ်ပါ၍ အမှတ်တကယ် မြေဧရိယာမှာ (၁၁.၈၈၅) ဧကသာလျှင်ဖြစ်ကြောင်း တင်ပြအစီအရင်ခံအပ်ပါသည်။

၂။ Precast Concrete Plant စက်ရုံလုပ်ကိုင်ခွင့်သက်တမ်းမှာလည်း ယခုအခါ ကိုယ်ပိုင်ဂရန်မြေဖြစ်သဖြင့် နိုင်ငံတော်အစိုးရမှ ခွင့်ပြုသည့်အထိ လုပ်ကိုင်ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ထပ်လောင်းတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

သာဌေး
ဥက္ကဋ္ဌ
Original Group Co., Ltd.

မိတ္တူကို-
- ရုံးလက်ခံ

**ORIGINAL GROUP CO., LTD.**

No.110, KABAAYE PAGODA ROAD, BAHAN TOWNSHIP, YANGON, MYANMAR.

Tel : 951-552955 Fax : 951-540644

---

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်။

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ (၁၅) ရက်

အကြောင်းအရာ။ **။ လုပ်ငန်းဆောင်ရွက်ခြင်းနှင့်ပတ်သက်၍ ကတိဝန်ခံချက်ပေးပို့ခြင်း။**

၁။ အထက်အကြောင်းရာပါကိစ္စနှင့်ပတ်သက်ပြီး Original Group Co., Ltd. သည် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့မှ ဝယ်ယူခွင့်ရရှိထားသော ရန်ကုန်မြို့၊ ဒဂုံဆိပ်ကမ်း မြို့နယ်၊ (၉၃) ရပ်ကွက်၊ ပုဏ္ဏမီလမ်း၊ မြေတိုင်းအမှတ် (၇၅)၊ အမှတ် (၈) နှင့် (၉) ဧရိယာ ၁၁.၈၈၅ ဧက (၄၈၀၉၆.၉၃ စတုရန်းမီတာ) အနက်မှ ၅.၇ ဧက (၂၃၀၆၆.၇၆ စတုရန်းမီတာ) ရှိသောမြေ ပေါ်တွင် Precast Concrete Plant စက်ရုံကို ဆောက်လုပ် ဆောင်ရွက်ရန်မြန်မာနိုင်ငံသား များရင်းနှီးမြှုပ်နှံ မှုဥပဒေနှင့်အညီ လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

၂။ ထိုသို့လျှောက်ထားရာတွင် အောက်ပါအကြောင်းအရာများကို ဝန်ခံကတိပြုပါသည်။

(က) ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပါသည်။ နိုင်ငံခြားသားများနှင့်မည်သို့မျှ ဆက်စပ်မှုမရှိပါ။

(ခ) ဤအဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်ရမှသာ စတင်ဆောင်ရွက်မည့်လုပ်ငန်းဖြစ်ပါသည်။

(ဂ) ကုမ္ပဏီသည် အဆိုပြုလုပ်ငန်းကို နိုင်ငံတော်မှ ချမှတ်ထားသည့် မူဝါဒများ၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ချမှတ်သောလမ်းညွှန်ချက်များ၊ ဆောက်လုပ်ရေးဝန်ကြီး ဌာန၊ ကြီးကြပ်လမ်းညွှန်မှုများနှင့်အညီ လုပ်ကိုင်ဆောင်ရွက်မည်ဖြစ်ပါသည်။

(ဃ) ဤလုပ်ငန်းသည် လုပ်ငန်းအသစ်ဖြစ်ပါသည်။

(င) ကုမ္ပဏီသည် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှုများကိုပြုလုပ်သွားမည်ဖြစ်ပါသည်။

(စ) ကုမ္ပဏီသည်လုပ်ငန်းဆောင်ရွက်ချက်နှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တော ရေးရာဝန်ကြီးဌာန၏လမ်းညွှန်သည့်အတိုင်း လိုအပ်သော IEE, EIA, SIA, EMP စသည့် လေ့လာသုံးသပ်ချက်အစီရင်ခံစာများကို ပြုလုပ်သွားမည်ဖြစ်ပါသည်။

(ဆ) နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဌာန်းချက်၊ စည်းကမ်းချက်များနှင့် အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(ဇ) လုပ်ငန်းသုံးပစ္စည်းများနှင့် စက်ပစ္စည်းကိရိယာများကိုလည်း ပြည်ပမှ ပစ္စည်းအသစ်များကိုသာ တင်သွင်းအသုံးပြုမည်ဖြစ်ပါသည်။ ယင်းပစ္စည်းများကို ပြန်လည်ရောင်းချမည် မဟုတ်ဘဲ လုပ်ငန်းသုံး အဖြစ်သုံးစွဲမည်ဖြစ်ပါသည်။

လေးစားစွာဖြင့်

သာငွေး

ဥက္ကဋ္ဌ

Original Group Co., Ltd.

ORIGINAL GROUP CO., LTD.
No.110, KABAAYE PAGODA ROAD, BAHAN TOWNSHIP, YANGON, MYANMAR.
Tel : 951-552955 Fax : 951-540644

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်။

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ (၁၅) ရက်

အကြောင်းအရာ။ ။ **မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့် ထုတ်ပေးပါရန်နှင့် ယင်းဥပဒေအရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ခံစားခွင့်ပြုပါရန်လျှောက်ထားခြင်း။**

၁။ အထက်အကြောင်းရာပါကိစ္စနှင့်ပတ်သက်ပြီး Original Group Co., Ltd. သည် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့မှ ဝယ်ယူခွင့်ရရှိထားသော ရန်ကုန်မြို့၊ ဒဂုံဆိပ်ကမ်း မြို့နယ်၊ (၉၃) ရပ်ကွက်၊ ပုဏ္ဏမီလမ်း၊ မြေတိုင်းအမှတ် (၇၅)၊ အမှတ် (၈) နှင့် (၉) ဧရိယာ ၁၁.၈၈၅ ဧက (၄၈၀၉၆.၉၃ စတုရန်းမီတာ) အနက်မှ ၅.၇ ဧက (၂၃၀၆၆.၇၆ စတုရန်းမီတာ) ရှိသောမြေ ပေါ်တွင် Precast Concrete Plant စက်ရုံကို ဆောက်လုပ် ဆောင်ရွက်ရန်မြန်မာနိုင်ငံသား များရင်းနှီးမြှုပ်နှံ မှုဥပဒေနှင့်အညီ လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

၂။ အထက်ဖော်ပြပါမြေကွက်ပေါ်တွင် စက်ရုံအဆောက်အဦးနှင့်ရုံးခန်း၊ ဝန်ထမ်းအိမ်ယာများကို ပူးတွဲ ဆောက်လုပ်ထားပါသည်။

၃။ ကုမ္ပဏီ၏ရင်းနှီးမြှုပ်နှံမှုသည် အမေရိကန်ဒေါ်လာ **(၃.၂၇၀)** သန်း နှင့် မြန်မာကျပ်ငွေသန်းပေါင်း **(၃,၉၄၂)** ဖြစ်ပါသည်။

၄။ ကျွန်တော်တို့ကုမ္ပဏီအနေဖြင့် စက်ရုံတည်ဆောက်ပြီးသည့်အခါ၊ ပြည်တွင်းဝန်ထမ်း (၂၂၁) ဦးကို အလုပ်အကိုင်ပေးနိုင်မည်ဖြစ်ပြီး၊ နိုင်ငံတော်အတွက် အခွန်အခများကိုလည်း ကျေပြွန်စွာထမ်း ဆောင်နိုင် မည်ဖြစ်ပါသည်။ သို့ပါ၍၊ ကုမ္ပဏီ၏ Precast Concrete Plant လုပ်ငန်းအတွက် နိုင်ငံသားရင်းနှီး မြှုပ်နှံမှု ခွင့်ပြုမိန့် ထုတ်ပေးနိုင်ပါရန် လျှောက်ထားအပ်ပါသည်။

၅။ ထို့ပြင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ၏ အခန်း (၁၁) တွင်ပါရှိသည့်အတိုင်း အောက်ပါ ကင်း လွတ်ခွင့်နှင့်သက်သာခွင့်များကိုလည်းခွင့်ပြုပေးပါရန် လျှောက်ထားအပ်ပါသည်။

(၁) ကုန်ထုတ်လုပ်ငန်း သို့မဟုတ် ဝန်ဆောင်မှုလုပ်ငန်းတစ်ခုခု စီးပွားဖြစ်စတင်သောနှစ် အပါ အဝင် တစ်ဆက်တည်း ငါးနှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်၊

(၂) နိုင်ငံတော်မှ အထူးလိုအပ်ချက်အရ ဆောင်ရွက်သော လုပ်ငန်းများအတွက် ကော်မရှင်မှ ထပ်မံသတ်မှတ်ပေးသည့် ကင်းလွတ်ခွင့်နှင့်သက်သာခွင့်၊

(၃) ပုဒ်မခွဲ (က) အရလုပ်ငန်းမှရသည့်အမြတ်ငွေကို ပြန်လည်ရင်းနှီးမြှုပ်နှံရန်အတွက် သီးသန့် ရံပုံငွေထား၍ တစ်နှစ်အတွင်း ယင်းလုပ်ငန်း၌ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေပေါ်တွင် ဝင်ငွေ ခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်၊

(၄) အမှန်တကယ်လိုအပ်၍ဆောင်ရွက်သည့်လုပ်ငန်းဆိုင်ရာသုတေသနနှင့်ဖွံ့ဖြိုးရေးလုပ်ငန်း များ အတွက် ကုန်ကျစရိတ်ကို အခွန်စည်းကြပ်ထိုက်သောငွေမှ နုတ်ပယ်ခွင့်၊

(၅) လုပ်ငန်းတစ်ခုချင်းအလိုက်ပုဒ်မခွဲ (က) ပါဝင်ငွေခွန်ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက် တည်း နှစ် နှစ်အတွင်း အမှန်တကယ်ပေါ်ပေါက်သည့်အရှုံးငွေကို ယင်းသို့အရှုံးပေါ်သည့်နှစ်မှစ၍ တစ်ဆက် တည်း သုံးနှစ်ကာလအထိသယ်ယူခုနှိမ်ခွင့်၊

(၆) လုပ်ငန်းစတင်တည်ဆောက်မှုကာလအတွင်းအမှန်တကယ်အသုံးပြုရန်လိုအပ်၍တင်သွင်း သောယာဉ်ယန္တရား၊စက်ပစ္စည်းကိရိယာများအသုံးအဆောင်တန်ဆာပလာစက်ကိရိယာအစိတ် အ ပိုင်းစက်အရန်ပစ္စည်းများလုပ်ငန်းသုံးပစ္စည်းများအပေါ်တွင်အကောက်ခွန်ဖြစ်စေ အခြားပြည်တွင်း အခွန်အကောက်များဖြစ်စေ နှစ်မျိုးလုံးကိုဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်၊

(၇) ဝင်ငွေစည်းကြပ်ရန်ကိစ္စအလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်းစက်ကိရိယာအဆောက်အအုံ သို့မ ဟုတ် လုပ်ငန်းသုံးအခြားမတည်ပစ္စည်းများအပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်း တန်ဖိုးလျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး၊ ပစ္စည်းတန်ဖိုးလျော့တွက်ငွေကို အမြတ်ငွေ ထဲမှ နုတ်ပယ်ခွင့်၊

(၈) ကော်မရှင်၏ခွင့်ပြုချက်ဖြင့် ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့်သက်တမ်းကာလအတွင်း အမှန်တကယ်အသုံးပြုရန် လိုအပ်၍ တင်သွင်း လာသော ယာဉ်ယန္တရား၊ စက်ပစ္စည်းကိရိယာများ၊ အသုံးအဆောင်တန်ဆာပလာ စက်ကိရိယာအစိတ်အပိုင်း စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန်ဖြစ်စေ အခြားပြည်တွင်း အခွန်အကောက်ဖြစ်စေ၊ နှစ်မျိုးလုံးကိုဖြစ်စေကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်၊

၆။ အဆိုပါရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် အောက်ပါအထောက်အထား စာရွက်စာတမ်းများကို ပူးတွဲ တင်ပြ အပ်ပါသည်။

(၁) ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုလုပ်ရန် ရင်းနှီး မြှုပ်နှံသူ၏အဆိုပြုချက်

(၂) ဘဏ္ဍာရေးဆိုင်ရာ အချက်အလက်နှင့်ပတ်သက်သောတွက်ချက်မှုဇယားများ

(၃) မြေပိုင်ဆိုင်မှုအထောက်အထားများ

(၄) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေးအထောက်အထားများ

(၅) ကုမ္ပဏီ၏သင်းဖွဲ့မှတ်တမ်းနှင့်သင်းဖွဲ့စည်းမျဉ်းများ

လေးစားစွာဖြင့်

သာဌေး

ဥက္ကဋ္ဌ

Original Group Co., Ltd.

# ORIGINAL GROUP CO., LTD.

No.110, KABAAYE PAGODA ROAD, BAHAN TOWNSHIP, YANGON, MYANMAR.
Tel : 951-552955 Fax : 951-540644


သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်။

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ (၂၅) ရက်

အကြောင်းအရာ။ **။ လျှပ်စစ်ဓါတ်သုံးစွဲမှုနှင့်ပတ်သက်၍ ကတိဝန်ခံချက်ပေးပို့ခြင်း။**

၁။ အထက်အကြောင်းရာပါကိစ္စနှင့်ပတ်သက်ပြီး Original Group Co., Ltd. သည် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့မှ ဝယ်ယူခွင့်ရရှိထားသော ရန်ကုန်မြို့၊ ဒဂုံဆိပ်ကမ်း မြို့နယ်၊ (၉၃) ရပ်ကွက်၊ ပုဏ္ဏမီလမ်း၊ မြေတိုင်းအမှတ် (၇၅)၊ အမှတ် (၈) နှင့် (၉) ဧရိယာ ၁၁.၈၈၅ ဧက (၄၈၀၉၆.၉၃ စတုရန်းမီတာ) အနက်မှ ၅.၇ ဧက (၂၃၀၆၆.၇၆ စတုရန်းမီတာ) ရှိသောမြေ ပေါ်တွင် Precast Concrete Plant စက်ရုံကို ဆောက်လုပ် ဆောင်ရွက်ရန်မြန်မာနိုင်ငံသား များရင်းနှီးမြှုပ်နှံ မှုဥပဒေနှင့်အညီ လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

၂။ ကုမ္ပဏီသည် စက်ရုံလုပ်ငန်းတည်ဆောက်ရာတွင်လည်းကောင်း၊ လုပ်ငန်းလည်ပတ်ရာတွင် လည်းကောင်း၊ နိုင်ငံတော်ကသတ်မှတ်ပြဌာန်းထားသည့် လျှပ်စစ်ဥပဒေအရ စနစ်တကျ သုံးစွဲမည်ဖြစ် ပါသည်။ လျှပ်စစ်ဓါတ်ကို အလေအလွင့်မရှိစေရန်လည်းကောင်း၊ အန္တရာယ်ကင်းရှင်းစေရန်လည်းကောင်း၊ သတ်မှတ် သည့်စွမ်းအားထက်ကျော်လွန်မသုံးရန်လည်းကောင်း အစဉ်ဂရုပြုဆောင်ရွက်မည်ဖြစ်ပါကြောင်း ဝန်ခံကတိ ပြုပါသည်။

လေးစားစွာဖြင့်

သာဌေး
ဥက္ကဋ္ဌ
Original Group Co., Ltd.

**ORIGINAL GROUP CO., LTD.**

No.110, KABAAYE PAGODA ROAD, BAHAN TOWNSHIP, YANGON, MYANMAR.
Tel : 951-552955 Fax : 951-540644

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်။

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ (၁၅) ရက်

အကြောင်းအရာ။ ။ **ဝန်ထမ်းများသက်သာချောင်ချိရေး နှင့်ပတ်သက်၍ ကတိခံဝန်ချက်ပေးခြင်း။**

၁။ အထက်အကြောင်းရာပါကိစ္စနှင့်ပတ်သက်ပြီး Original Group Co., Ltd. သည် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့မှ ဝယ်ယူခွင့်ရရှိထားသော ရန်ကုန်မြို့၊ ဒဂုံဆိပ်ကမ်း မြို့နယ်၊ (၉၃) ရပ်ကွက်၊ ပုဏ္ဏာမီလမ်း၊ မြေတိုင်းအမှတ် (၇၅)၊ အမှတ် (၈) နှင့် (၉) ဧရိယာ ၁၁.၈၈၅ ဧက (၄၈၀၉၆.၉၃ စတုရန်းမီတာ) အနက်မှ ၅.၇ ဧက (၂၃၀၆၆.၇၆ စတုရန်းမီတာ) ရှိသောမြေ ပေါ်တွင် Precast Concrete Plant စက်ရုံကို ဆောက်လုပ် ဆောင်ရွက်ရန်မြန်မာနိုင်ငံသား များရင်းနှီးမြှုပ်နှံ မှုဥပဒေနှင့်အညီ လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

၂။ ကုမ္ပဏီသည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရစက်ရုံလုပ်ငန်းဆောင်ရွက်ရာတွင်၊ နိုင်ငံသားဝန်ထမ်း ၂၂၀ ဦးကိုခန့်ထားပါမည်။ ဝန်ထမ်းများနှင့်ပတ်သက်ပြီး၊ သက်သာချောင်ချိရေးအနေဖြင့် နေ့စဉ်စားသောက်ရေးအတွက် ကုမ္ပဏီမှစီစဉ်ထားရှိပါမည်။ ဝန်ထမ်းများအား နှစ်စဉ်၊ ကျန်းမာ ရေးဆေး စစ်ပေးခြင်း၊ အများအားလပ်ရက်တွင် အပန်းဖြေခရီးထွက်စေခြင်း၊ ပျော်ပွဲရွှင်ပွဲများ လုပ်ပေးခြင်း၊ နှစ်စဉ် ဆုကြေးပေးခြင်းစတို့ကို ဆောင်ရွက်ပေးမည် ဖြစ်ပါကြောင်းဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

သာဌေး
ဥက္ကဋ္ဌ
Original Group Co., Ltd.

# ORIGINAL GROUP CO., LTD.

No.110, KABAAYE PAGODA ROAD, BAHAN TOWNSHIP, YANGON, MYANMAR.
Tel : 951-552955 Fax : 951-540644

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်။

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ (၂၅) ရက်

အကြောင်းအရာ။ **။ မီးဘေးအန္တရာယ်ကင်းရှင်းရေး နှင့်ပတ်သက်၍ ကတိခံဝန်ချက်ပေးခြင်း။**

၁။ အထက်အကြောင်းရာပါကိစ္စနှင့်ပတ်သက်ပြီး Original Group Co., Ltd. သည် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့မှ ဝယ်ယူခွင့်ရရှိထားသော ရန်ကုန်မြို့၊ ဒဂုံဆိပ်ကမ်း မြို့နယ်၊ (၉၃) ရပ်ကွက်၊ ပုဏ္ဏာမီလမ်း၊ မြေတိုင်းအမှတ် (၇၅)၊ အမှတ် (၈) နှင့် (၉) ဧရိယာ ၁၁.၈၈၅ ဧက (၄၈၀၉၆.၉၃ စတုရန်းမီတာ) အနက်မှ ၅.၇ ဧက (၂၃၀၆၆.၇၆ စတုရန်းမီတာ) ရှိသောမြေ ပေါ်တွင် Precast Concrete Plant စက်ရုံကို ဆောက်လုပ် ဆောင်ရွက်ရန်မြန်မာနိုင်ငံသား များရင်းနှီးမြှုပ်နှံ မှုဥပဒေနှင့်အညီ လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

၂။ ကုမ္ပဏီသည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရစက်ရုံလုပ်ငန်းဆောင်ရွက်ရာတွင်၊ မီးဘေးအန္တရာယ်ကင်းရှင်းနှင့်ပတ်သက်ပြီးအောက်ပါတို့ကို ဆောင်ရွက်ပေးမည် ဖြစ်ပါကြောင်းဝန်ခံကတိ ပြုပါသည်။

- လျှပ်စစ်ကြောင့်ဖြစ်နိုင်သည့်မီးကို ကြိုတင်ကာကွယ်သည့်အနေဖြင့် စိတ်ချရသော လျှပ်စစ် အသုံးအဆောင်ပစ္စည်းများကို တပ်ဆင်သုံးစွဲပါမည်။
- စက်ရုံတွင်သုံးသော လောင်စာများ (ဓါတ်ငွေ့အိုးများ၊ လောင်စာဆီများစသည်) တို့ကို စနစ်တကျထားရှိပါမည်။
- မီးသတ်ဆေးဘူးများ၊ အလိုအလျောက်မီးငြိမ်းသတ်ရန်ရေဖျန်းကိရိယာများကို လိုအပ်သည့် နေရာတိုင်းထားပါမည်။
- ဝန်ထမ်းများအား အရေးပေါ်မီးသတ်သည့်သင်တန်းများ၊ သိမှတ်စရာများကို မီးသတ်ဦးစီး ဌာနမှ လာရောက်ပို့ချစေပါမည်။
- နှစ်စဉ် မီးငြိမ်းသတ်သည့် လေ့ကျင့်မှုကို ဝန်ထမ်းအားလုံးနှင့် ပြုလုပ်ပါမည်။

လေးစားစွာဖြင့်

သာဌေး
ဥက္ကဋ္ဌ
Original Group Co., Ltd.

ORIGINAL GROUP CO., LTD.
No.110, KABAAYE PAGODA ROAD, BAHAN TOWNSHIP, YANGON, MYANMAR.
Tel : 951-552955 Fax : 951-540644

သို့

ဥက္ကဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရက်စွဲ။ ။၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ (၁၅) ရက်

အကြောင်းအရာ။ ။**Environmental Impact Assessment ( EIA ) နှင့်ပါတ်သက်၍ ဝန်ခံကတိတင်ပြခြင်း။**

၁။ အထက်အကြောင်းရာပါကိစ္စနှင့်ပတ်သက်ပြီး Original Group Co., Ltd. သည် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့မှ ဝယ်ယူခွင့်ရရှိထားသော ရန်ကုန်မြို့၊ ဒဂုံဆိပ်ကမ်း မြို့နယ်၊ (၉၃) ရပ်ကွက်၊ ပုဏ္ဏမီလမ်း၊ မြေတိုင်းအမှတ် (၇၅)၊ အမှတ် (၈) နှင့် (၉) ဧရိယာ ၁၁.၈၈၅ ဧက (၄၈၀၉၆.၉၃ စတုရန်းမီတာ) အနက်မှ ၅.၇ ဧက (၂၃၀၆၆.၇၆ စတုရန်းမီတာ) ရှိသောမြေ ပေါ်တွင် Precast Concrete Plant စက်ရုံကို ဆောက်လုပ်ဆောင်ရွက်ရန် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

၂။ ကုမ္ပဏီသည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ စက်ရုံလုပ်ငန်းဆောင်ရွက်ရာတွင် လူမှုရေးတာဝန်တစ်ရပ်အနေဖြင့် Environmental Impact Assessment ( EIA ) နှင့်ပါတ်သက်၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာနမှချမှတ်ထားသော စည်းမျဉ်း၊စည်းကမ်းများနှင့် အညီလိုက်နာဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

သာဌေး
ဥက္ကဌ
Original Group Co., Ltd.

# ORIGINAL GROUP CO., LTD.

No.110, KABAAYE PAGODA ROAD, BAHAN TOWNSHIP, YANGON, MYANMAR.
Tel : 951-552955 Fax : 951-540644


သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်။

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ (၁၅) ရက်

အကြောင်းအရာ။ **။Corporate Social Responsibility (CSR) နှင့်ပတ်သက်၍ ရှင်းလင်းတင်ပြခြင်း။**

၁။ အထက်အကြောင်းရာပါကိစ္စနှင့်ပတ်သက်ပြီး Original Group Co., Ltd. သည် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့မှ ဝယ်ယူခွင့်ရရှိထားသော ရန်ကုန်မြို့၊ ဒဂုံဆိပ်ကမ်း မြို့နယ်၊ (၉၃) ရပ်ကွက်၊ ပုဏ္ဏမီလမ်း၊ မြေတိုင်းအမှတ် (၇၅)၊ အမှတ် (၈) နှင့် (၉) ဧရိယာ ၁၁.၈၈၅ ဧက (၄၈၀၉၆.၉၃ စတုရန်းမီတာ) အနက်မှ ၅.၇ ဧက (၂၃၀၆၆.၇၆ စတုရန်းမီတာ) ရှိသောမြေ ပေါ်တွင် Precast Concrete Plant စက်ရုံကို ဆောက်လုပ် ဆောင်ရွက်ရန်မြန်မာနိုင်ငံသား များရင်းနှီးမြှုပ်နှံ မှုဥပဒေနှင့်အညီ လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

၂။ ကုမ္ပဏီသည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရစက်ရုံလုပ်ငန်းဆောင်ရွက်ရာတွင်၊ လူမှုရေးတာဝန်ကိုစောင့်ထိန်းသောအားဖြင့်၊ Corporate Social Responsibility (CSR) အတွက် လုပ်ငန်း အသားတင်အမြတ်၏ ၂ % ကို ရန်ကုန်မြို့ရှိ ရပ်ကွက်များတွင်လိုအပ်နေသည့် ဆေးပေးခန်း၊ စာကြည့်တိုက်၊ ကျောင်းများစသည်တို့တွင် လှူဒါန်းမည်ဖြစ်ပါကြောင်း၊ ရှင်းလင်းတင်ပြ အပ်ပါသည်။

လေးစားစွာဖြင့်

သာဌေး
ဥက္ကဋ္ဌ
Original Group Co., Ltd.

**ORIGINAL GROUP CO., LTD.**

No.110, KABAAYE PAGODA ROAD, BAHAN TOWNSHIP, YANGON, MYANMAR.
Tel : 951-552955 Fax : 951-540644

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရက်စွဲ။ ။ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ (၁၅) ရက်

အကြောင်းအရာ။ ။ **ဝန်ထမ်းများ၏ ဝင်ငွေခွန်ထမ်းဆောင်ခြင်းနှင့်စပ်လျဉ်း၍ ဝန်ခံကတိပြုခြင်း။**

၁။ အထက်အကြောင်းရာပါကိစ္စနှင့်စပ်လျဉ်း၍ Original Group Co., Ltd. သည် ရန်ကုန်မြို့၊ ဒဂုံဆိပ်ကမ်းမြို့နယ်၊ Precast Concrete Plant စက်ရုံကို ဆောက်လုပ်ဆောင်ရွက်ရန် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

၂။ အဆိုပါစက်ရုံတွင် ထမ်းဆောင်ရန် ပြည်တွင်းဝန်ထမ်း( ၂၂၁ ) ဦးခန့်ထားမည်ဖြစ်ပြီး၊ လုပ်ခလစာ တစ်နှစ်လျှင် ကျပ်သိန်း(၂၀)ထက်ကျော်လွန်သောဝန်ထမ်းများကို ဝင်ငွေခွန်သတ်မှတ်ပြီး ပြည်တွင်းအခွန်ဦးစီးဌာန သို့ ဝင်ငွေခွန်ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

သာငွေး
ဥက္ကဋ္ဌ
Original Group Co., Ltd.

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ရင်းနှီးမြှုပ်နှံလိုသူ၏

# အဆိုပြုချက်

ပုံစံ (မနသ -၁)

**မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ**

**ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်**

**(ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဆ) နှင့် ပုဒ်မ ၁၇)**

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်။ ။ OGC / Precast / 2016 ( 011 )

ရက်စွဲ။ ။ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ (    ) ရက်

ကျွန်တော်သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အတွင်းရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန် အောက်ပါ အချက်အလက်များကိုဖော်ပြလျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏-

| | |
|---|---|
| (က) အမည် | **ဦးသာဌေး** |
| (ခ) အဖအမည် | **ဦးထွန်းရင်** |
| (ဂ) နိုင်ငံသားစိစစ်ရေးအမှတ် | **၁၂/အစန (နိုင်) ဝ၃ဝ၁၈၂** |
| (ဃ) နေရပ်လိပ်စာ | **အမှတ် (၁၈၊ စီ)၊ အင်ယားမြိုင်လမ်း၊ ရွှေတောင်ကြား (၁) ရပ်ကွက်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး၊** |
| (င) လူမျိုး၊ ဘာသာ | **ဗမာ၊ ဗုဒ္ဓဘာသာ** |
| (စ) အဖွဲ့အစည်းအမည် | **Original Group Co., Ltd.** |
| (ဆ) လုပ်ငန်းအမျိုးအစား | **ထုတ်လုပ်မှုလုပ်ငန်း** |
| (ဇ) အဖွဲ့အစည်းတည်ရာအရပ် | **အမှတ် (၁၁ဝ)၊ ကမ္ဘာအေးဘုရားလမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး၊** |

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါကဖက်စပ်ပြုလုပ်မည့်သူများ၏

(က) အမည်

(ခ) အဖအမည်

(ဂ) နိုင်ငံသားစိစစ်ရေးအမှတ်

(ဃ) နေရပ်လိပ်စာ

(င) လူမျိုး၊ ဘာသာ

(စ) အဖွဲ့အစည်းအမည်

(ဆ)လုပ်ငန်းအမျိုးအစား

(ဇ) အဖွဲ့အစည်းတည်ရာအရပ်

၃။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား

(က) ကုန်ထုတ်လုပ်မှု လုပ်ငန်း **Precast Concrete Product ထုတ်လုပ်မှုလုပ်ငန်း**

(ခ) ဝန်ဆောင်မှုလုပ်ငန်း

၄။ လုပ်ကိုင်မည့် စီးပွားရေးပုံစံ

(က) နိုင်ငံသားနှင့်နိုင်ငံသား တို့ကအစုစပ်လုပ်ကိုင်းခြင်း **လီမိတက်ကုမ္ပဏီ**

(ခ) အဖွဲ့အစည်းနှင့်နိုင်ငံသား တို့ကဖက်စပ်လုပ်ကိုင်ခြင်း

(ဂ) အဖွဲ့အစည်းနှင့်အခြားအ ဖွဲ့အစည်းတို့ကဖက်စပ် လုပ်ကိုင်ခြင်း

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဍာန် -

(က) တစ်ဦးတည်းပိုင်

(ခ) ဖက်စပ်/အစုစပ်လုပ်ငန်း

(ဂ) လီမိတက် ကုမ္ပဏီ **အော်ရီဂျင်နယ် ဂရု (ပ်) ကုမ္ပဏီလီမိတက်**

**Original Group Co., Ltd.**

၆။ ဖက်စပ်နှင့်အစုစပ်လုပ်ငန်းဖြစ်ပါက -

(က) အစုဝင်တို့က ထည့်ဝင်မည့် အစုငွေ အမျိုးအစားနှင့် ပမာဏ

(ခ) အကျိုးအမြတ်ခွဲဝေမည့် အမျိုး အစား

(ဂ) အစုဝင်များ၏ တာဝန်နှင့်လုပ် ပိုင်ခွင့်များ

၇။ သမဂါယမအသင်း/လီမိတက်ဖြစ်ပါက -

(က) ခွင့်ပြုမတည်ငွေရင်း **ကျပ် ၂,၅၀၀,၀၀၀,၀၀၀ (ကျပ်သန်းနှစ်ထောင့်ငါးရာတိတိ)**

(ခ) အစုရှယ်ရာအမျိုးအစား တစ်ခုလျှင် **ကျပ် ၁၀,၀၀၀ (ကျပ်တစ်သောင်းတိတိ) တန်**

**သာမန်အစုရှယ်ရာ၂၅၀,၀၀၀ (နှစ်သိန်းငါးသောင်းတိတိ)**

(ဂ) အစုရှယ်ရာဝင်များက **ကျပ် ၂,၂၀၀,၀၀၀,၀၀၀ တစုလျှင် ကျပ် ၁၀,၀၀၀ (ကျပ် တစ်သောင်း တိတိ) တန် အစုရှယ်ရာ ၂၂၀,၀၀၀ စု ထည့်ဝင်မည်**

(ခွင့်ပြုမိန့်ရရှိသည့်အခါ မတည်ရင်းနှီးငွေကိုတိုးမြှင့်သွားမည်ဖြစ်ပါသည်။)

၈။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့်အဖွဲ့အစည်းနှင့်သက်ဆိုင်သောအချက်အလက်များ

(က) မတည်ငွေရင်းပမာဏ

| | ကျပ် (သန်း) | အမေရိကန်ဒေါ်လာ (သန်း) | စုစုပေါင်း (ကျပ်) (သန်း) |
|---|---|---|---|
| (၁) ငွေပမာဏ | | | ၂,၀၃၃.၆၀ |
| (၂) မြေ | | | ၁,၃၀၀.၀၀ |
| (၃) အဆောက်အဦး | | | ၆၀၀.၀၀ |
| (၄) စက်ပစ္စည်းကိရိယာများ | | ၃.၂၇ | ၃,၉၂၄.၀၀ |
| (၅) ပရိဘောဂပစ္စည်းများ | | | ၈.၄၀ |
| စုစုပေါင်း | | ၃.၂၇ | ၇,၈၆၆.၀၀ |

(ခ) နိုင်ငံခြားမှ တင်သွင်းရန်လိုအပ်သည့်

| | ကျပ် (သန်း) | အမေရိကန်ဒေါ်လာ(သန်း) |
|---|---|---|
| (၁) စက်ပစ္စည်းကိရိယာများ စသည့်ပစ္စည်းတို့၏ တန်ဖိုးပမာဏ | | ၃.၂၇ |
| (၂) ကုန်ကြမ်းပစ္စည်းများနှင့်အခြား အလားတူပစ္စည်းများတန်ဖိုး | | |
| (၃) ကျွမ်းကျင်မှုနည်းပညာရပ်များ၏ တန်ဖိုးပမာဏ | | |

(ဂ) တည်ဆောက်မှုကာလ ၁၂ လ

(ဃ) ပဏာမစူးစမ်းလေ့လာမှုပြုလုပ်မည့်ကာလ

(င) တည်ဆောက်မှု စတင်မည့်အချိန် **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ရသည့်အချိန်မှ (၁၂) လအတွင်းအပြီးတည်ဆောက်မည်။**

၉။ ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းနှင့်သက်ဆိုင်သောအချက်အလက်များ -

(က) လုပ်ငန်းအမျိုးအစား **ထုတ်လုပ်မှုလုပ်ငန်း**

(ခ) ရင်းနှီးမြှုပ်နှံမှုလုပ်မည့်ဒေသများ **ရန်ကုန်မြို့၊ ဒဂုံဆိပ်ကမ်း မြို့နယ်၊ (၉၃) ရပ်ကွက်၊ ပုဏ္ဏာမီလမ်း၊ မြေတိုင်းအမှတ် (၇၅)၊ အမှတ် (၈) နှင့် (၉) ဧရိယာ ၅.၇ ဧက (၂၃၀၆၆.၇၆ စတုရန်းမီတာ)**

(ဂ) ဆောင်ရွက်ပုံနည်းစနစ် **Precast Concrete Technology**

(ဃ) နှစ်စဉ် စက်သုံးဆီလိုအပ်ချက်

၁။ ဒီဇယ်ဆီ **၃၀၀၀၀၀ ဂါလံ**

၂။ ဓါတ်ဆီ **၅၀၀၀ ဂါလံ**

၃။ စက်ဆီ၊ ချောဆီ **၁၃၀၀ ဂါလံ**

(င) နှစ်စဉ်လျှပ်စစ်ဓါတ်အားလိုအပ်ချက်

၁။ လျှပ်စစ်ဓါတ်အား **၇၄၈၈၀၀ KWh**

၂။ ဒီဇယ်ဆီအင်ဂျင်စက်အား **၃၅၀ KVA**

၃။ ဘွိုင်လာအသုံးပြုအင်ဂျင်စက်အား

၄။ သဘာဝဓါတ်ငွေ့သုံးစက်အား

၅။ ပေးပို့သည့် အခြားအား

(ရေအား၊ လေအားစသည်များ)

(စ) နှစ်စဉ်ရေလိုအပ်ချက်

၁။ တစ်နေ့ရေလိုအပ်ချက် ဂါလံ **၅၀၀၀ ဂါလံ**

၂။ တစ်နှစ် ရေလိုအပ်ချက် ဂါလံ **၁၅၀၀၀၀၀ ဂါလံ**

(ဆ) နှစ်စဉ် လုပ်ငန်းသုံးပစ္စည်း/ကုန်ကြမ်းလိုအပ်ချက်

(ဇ) အဆောက်အအုံလိုအပ်ချက်

(ဈ) မြေနေရာအမျိုးအစားနှင့် အကျယ်အဝန်း **ကိုယ်ပိုင်မြေ ဂရန်မြေ၊ ဧရိယာ ၅.၇ ဧက**

(ည) ခန့်မှန်းထုတ်လုပ်မည့်ကုန်ပစ္စည်း

ဆောင်ရွက်မည့် ဝန်ဆောင်မှု

(ဋ) ရောင်းချမည့်စနစ် **၁၀၀ ရာခိုင်နှုန်းကို ပြည်တွင်း၌**
**ရောင်းချမည်ဖြစ်ပါသည်။**

၁၀။ နှစ်စဉ်ကုန်ထုတ်လုပ်မှု / ဝန်ဆောင်မှုနှင့်စပ်လျဉ်းသောအချက်အလက်များ

ခန့်မှန်းခြေကျပ်ငွေ

နိုင်ငံခြားငွေ

(က) လုပ်ငန်းလည်ပတ်ရန်လိုအပ်သည့်ကျပ်ငွေ

(ခ) လိုအပ်မည့်နိုင်ငံခြားသုံးငွေ

(ဂ) ရရှိမည့် နိုင်ငံခြားသုံးငွေပမာဏ

(ဃ) ပြည်ပသို့တင်ပို့ရောင်းချနိုင်မည့် ကုန်ပစ္စည်း/
ဝန်ဆောင်မှု တန်ဖိုးပမာဏ

(င) နှစ်စဉ်ပြည်တွင်း၌ ရောင်းချနိုင်မည့် ကုန်ပစ္စည်း/
ဝန်ဆောင်မှု တန်ဖိုးပမာဏ

၁၁. ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းတွင် လိုအပ်မည့် အမှုထမ်းများစာရင်း

(က) ပြည်တွင်းမှ လိုအပ်မည့် အမှုထမ်းများ **၂၂၁ ဦး**

(ခ) နိုင်ငံခြားမှ လိုအပ်မည့် ကျွမ်းကျင်သူနှင့်
အတတ်ပညာရှင်များ

၁၂။ စီးပွားရေးတွက်ခြေကိုက်မှု နှင့်စပ်လျဉ်းသောအချက်အလက်များ

| | ခန့်မှန်းခြေ | |
|---|---|---|
| | ကျပ် | နိုင်ငံခြားငွေ |
| (က) နှစ်စဉ် ဝင်ငွေရရှိမှု | **နောက်ဆက်တွဲ** (E) | |
| (ခ) နှစ်စဉ် လုပ်ငန်းကုန်ကျစရိတ် | **နောက်ဆက်တွဲ** (F) | |
| (ဂ) နှစ်စဉ် အသားတင်အမြတ် | **နောက်ဆက်တွဲ** (F) | |
| (ဃ) နှစ်အလိုက် ရင်းနှီးမြှုပ်နှံမှု | **နောက်ဆက်တွဲ** (F) | |
| (င) အရင်းကျေကာလ | **၅ နှစ် ၁၀ လ** | |
| (စ) အခြားအကျိုးအမြတ်များ | | |
| (ဆ) အလုပ်အကိုင်အသစ်များ ပေါ်ပေါက်လာမည့်အခြေအနေ | **နောက်ဆက်တွဲ** (D) | |

၁၃။ ဆောင်ရွက်ရန် အဆိုပြုချက်နှင့် စပ်လျဉ်းသည့် အထောက်အထားများ၊ အဆိုပြုတင်ပြသည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းအတွက် အောက်ဖော်ပြပါ အထောက်အထားများကိုပူးတွဲတင်ပြအပ်ပါသည်။

(က) မြေငှားရမ်းမှုစာချုပ်

(ခ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားများ

(ဂ) လက်ရှိဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်၍ သင်းဖွဲ့မှတ်တမ်းနှင့်သင်းဖွဲ့စည်းမျဉ်း

(ဃ) လက်ရှိဖွဲ့စည်းပြီးအဖွဲ့အစည်းဖြစ်ပါက လက်ရှိအခြေအနေ နှင့်ပြင်ဆင်ဖွဲ့စည်းမည့်အခြေအနေ အထောက်အထားများ

လျှောက်ထားသူ

လက်မှတ်

အမည်  သာဒွေး

ရာထူး  ဥက္ကဌ

**Appendix (B)**

**ORIGINAL GROUP COMPANY LIMITED**
**LIST OF MACHINERY AND EQUIPMENT TO BE IMPORTED**
**IMPORT**

(in USD)

| Sr. | Item | Unit | Qty | Price | Value |
|---|---|---|---|---|---|
| 1 | Batching Plant (Wet Mix) | Unit | 1 | 200,000 | 200,000 |
| 2 | Mould & Accessories | Lot | 1 | 850,000 | 850,000 |
| 3 | 10 Tons Gantry Crane | Unit | 6 | 58,000 | 348,000 |
| 4 | Mixer Truck | Unit | 8 | 83,000 | 664,000 |
| 5 | Wheel Loader | Unit | 3 | 100,000 | 300,000 |
| 6 | Fork Lift | Unit | 3 | 50,000 | 150,000 |
| 7 | Prime Mover | Unit | 4 | 120,000 | 480,000 |
| 8 | High Bed Trailer (Flat Bed) | Unit | 22 | 13,000 | 286,000 |
| | **Total** | | | | **3,278,000** |

Appendix (C)

**ORIGINAL GROUP COMPANY LIMITED**
**RAW MATERIALS**

**Foreign Purchase**

| Sr. | Materials | Unit | Year 1 | Year 2 | Year 3 | Year 4 | Year 5 | Year 6 | Year 7 | Year 8 | Year 9 | Year 10 |
|---|---|---|---|---|---|---|---|---|---|---|---|---|
| 1 | Cement | Ton | 60,500 | 60,500 | 60,500 | 60,500 | 60,500 | 60,500 | 60,500 | 60,500 | 60,500 | 60,500 |
| 2 | Admiture | Litre | 175,000 | 175,000 | 175,000 | 175,000 | 175,000 | 175,000 | 175,000 | 175,000 | 175,000 | 175,000 |
| 3 | Rebar | Ton | 1,100 | 1,100 | 1,100 | 1,100 | 1,100 | 1,100 | 1,100 | 1,100 | 1,100 | 1,100 |
| 4 | Welded Mesh | Ton | 4,100 | 4,100 | 4,100 | 4,100 | 4,100 | 4,100 | 4,100 | 4,100 | 4,100 | 4,100 |
| 5 | Strand Wire | Ton | 610 | 610 | 610 | 610 | 610 | 610 | 610 | 610 | 610 | 610 |
| 6 | Mould Oil | Litre | 92,500 | 92,500 | 92,500 | 92,500 | 92,500 | 92,500 | 92,500 | 92,500 | 92,500 | 92,500 |
| 7 | Non-shrink Grout (cement) | Kg | 85,000 | 85,000 | 85,000 | 85,000 | 85,000 | 85,000 | 85,000 | 85,000 | 85,000 | 85,000 |
| 8 | Skimcoat (cement) | Kg | 62,000 | 62,000 | 62,000 | 62,000 | 62,000 | 62,000 | 62,000 | 62,000 | 62,000 | 62,000 |
| | **Local Purchase** | | | | | | | | | | | |
| 1 | Sand | Sud | 76,728 | 76,728 | 76,728 | 76,728 | 76,728 | 76,728 | 76,728 | 76,728 | 76,728 | 76,728 |
| 2 | Corase Aggregrate | Ton | 16,215 | 16,215 | 16,215 | 16,215 | 16,215 | 16,215 | 16,215 | 16,215 | 16,215 | 16,215 |

**Foreign Purchase Price ( USD)**

| Sr. | Materials | Unit | Year 1 | Year 2 | Year 3 | Year 4 | Year 5 | Year 6 | Year 7 | Year 8 | Year 9 | Year 10 |
|---|---|---|---|---|---|---|---|---|---|---|---|---|
| 1 | Cement | Ton | 120.00 | 120.00 | 120.00 | 120.00 | 120.00 | 120.00 | 120.00 | 120.00 | 120.00 | 120.00 |
| 2 | Admiture | Litre | 2.60 | 2.60 | 2.60 | 2.60 | 2.60 | 2.60 | 2.60 | 2.60 | 2.60 | 2.60 |
| 3 | Rebar | Ton | 650.00 | 650.00 | 650.00 | 650.00 | 650.00 | 650.00 | 650.00 | 650.00 | 650.00 | 650.00 |
| 4 | Welded Mesh | Ton | 1,000.00 | 1,000.00 | 1,000.00 | 1,000.00 | 1,000.00 | 1,000.00 | 1,000.00 | 1,000.00 | 1,000.00 | 1,000.00 |
| 5 | Strand Wire | Ton | 1,000.00 | 1,000.00 | 1,000.00 | 1,000.00 | 1,000.00 | 1,000.00 | 1,000.00 | 1,000.00 | 1,000.00 | 1,000.00 |
| 6 | Mould Oil | Litre | 1.10 | 1.10 | 1.10 | 1.10 | 1.10 | 1.10 | 1.10 | 1.10 | 1.10 | 1.10 |
| 7 | Non-shrink Grout (cement) | Kg | 0.45 | 0.45 | 0.45 | 0.45 | 0.45 | 0.45 | 0.45 | 0.45 | 0.45 | 0.45 |
| 8 | Skimcoat (cement) | Kg | 0.35 | 0.35 | 0.35 | 0.35 | 0.35 | 0.35 | 0.35 | 0.35 | 0.35 | 0.35 |
| | **Local Purchase** | | | | | | | | | | | |
| 1 | Sand | Sud | 15 | 15 | 15 | 15 | 15 | 15 | 15 | 15 | 15 | 15 |
| 2 | Corase Aggregrate | Ton | 30 | 30 | 30 | 30 | 30 | 30 | 30 | 30 | 30 | 30 |

**Purchase Value** (in USD)

| Sr. | Materials | Unit | Year 1 | Year 2 | Year 3 | Year 4 | Year 5 | Year 6 | Year 7 | Year 8 | Year 9 | Year 10 |
|---|---|---|---|---|---|---|---|---|---|---|---|---|
| 1 | Cement | Ton | 7,260,000 | 7,260,000 | 7,260,000 | 7,260,000 | 7,260,000 | 7,260,000 | 7,260,000 | 7,260,000 | 7,260,000 | 7,260,000 |
| 2 | Admiture | Litre | 455,000 | 455,000 | 455,000 | 455,000 | 455,000 | 455,000 | 455,000 | 455,000 | 455,000 | 455,000 |
| 3 | Rebar | Ton | 715,000 | 715,000 | 715,000 | 715,000 | 715,000 | 715,000 | 715,000 | 715,000 | 715,000 | 715,000 |
| 4 | Welded Mesh | Ton | 4,100,000 | 4,100,000 | 4,100,000 | 4,100,000 | 4,100,000 | 4,100,000 | 4,100,000 | 4,100,000 | 4,100,000 | 4,100,000 |
| 5 | Strand Wire | Ton | 610,000 | 610,000 | 610,000 | 610,000 | 610,000 | 610,000 | 610,000 | 610,000 | 610,000 | 610,000 |
| 6 | Mould Oil | Litre | 101,750 | 101,750 | 101,750 | 101,750 | 101,750 | 101,750 | 101,750 | 101,750 | 101,750 | 101,750 |
| 7 | Non-shrink Grout (cement) | Kg | 38,250 | 38,250 | 38,250 | 38,250 | 38,250 | 38,250 | 38,250 | 38,250 | 38,250 | 38,250 |
| 8 | Skimcoat (cement) | Kg | 21,700 | 21,700 | 21,700 | 21,700 | 21,700 | 21,700 | 21,700 | 21,700 | 21,700 | 21,700 |
| | **Sub-Total** | | 13,301,700 | 13,301,700 | 13,301,700 | 13,301,700 | 13,301,700 | 13,301,700 | 13,301,700 | 13,301,700 | 13,301,700 | 13,301,700 |
| | **Local Purchase** | | | | | | | | | | | (in USD) |
| 1 | Sand | Sud | 1,150,920 | 1,150,920 | 1,150,920 | 1,150,920 | 1,150,920 | 1,150,920 | 1,150,920 | 1,150,920 | 1,150,920 | 1,150,920 |
| 2 | Corase Aggregrate | Ton | 486,450 | 486,450 | 486,450 | 486,450 | 486,450 | 486,450 | 486,450 | 486,450 | 486,450 | 486,450 |
| | **Sub Total** | | **1,637,370** | **1,637,370** | **1,637,370** | **1,637,370** | **1,637,370** | **1,637,370** | **1,637,370** | **1,637,370** | **1,637,370** | **1,637,370** |
| | **Total** | | **14,939,070** | **14,939,070** | **14,939,070** | **14,939,070** | **14,939,070** | **14,939,070** | **14,939,070** | **14,939,070** | **14,939,070** | **14,939,070** |

